လျှို့ဝှက်

**အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mian Hua Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နိုင်ငံခြားဘာသာရပ်(တရုတ်) ဘာသာစကားသင်ကြားရေး ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Mian Hua Co., Ltd.<br>- ဒေါ်ယဉ်ယဉ်ဝင်း<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- နိုင်ငံခြားဘာသာရပ်(တရုတ်) ဘာသာစကား သင်ကြားရေး ဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - အမှတ်-(၇-အေ)၊ မြေကွက်အမှတ်-၃၂/၅၊ မြေတိုင်းရပ်ကွက် အမှတ်-၈၅(ကံဘဲ့)၊ ပြည်တော်အေးရိပ်သာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၃၇၂ ဧက |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အအုံအရေအတွက်<br>မြေ/အဆောက်အအုံ<br>ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဒေါ်မာလာ(ခ) ဒေါ်မာလာတင့်<br>- ၀.၃၇၂ ဧက<br>- တစ်ထပ်တိုက်(၂) လုံး<br>- ကျပ် ၆၀.၀၀ သန်း<br><br>- ၅ နှစ် ၃ လ |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား**<br>ငွေသား<br>မြေ/ အဆောက်အအုံ<br>ငှားရမ်းခ(တစ်နှစ်)<br>ပရိဘောဂနှင့်လုပ်ငန်းသုံး<br>ပစ္စည်း | ကျပ် ၃၀၀.၀၀၀ သန်း<br>**ကျပ် (သန်း)**<br>၁၉၀.၀၀၀<br>၆၀.၀၀၀<br><br>၅၀.၀၀၀<br><br>**၃၀၀.၀၀၀** |

လျှို့ဝှက်

Salient

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု(ပထမနှစ်) | စဉ် / အမျိုးအမည် / ကျောင်းသားဦးရေ / ဝန်ဆောင်ခနှုန်း (ကျပ်/တစ်နှစ်)<br>(က) Grade 1 / ၁၀ / ၇,၀၀၀,၀၀၀<br>(ခ) Grade 2 / ၈ / ၇,၀၀၀,၀၀၀<br>(ဂ) Grade 3 / ၅ / ၇,၀၀၀,၀၀၀<br>(ဃ) Grade 4 / ၄ / ၇,၀၀၀,၀၀၀<br>(င) Grade 5 / ၂ / ၇,၀၀၀,၀၀၀<br>(စ) Grade 6 / ၂ / ၇,၀၀၀,၀၀၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | **သင်ကြားရေး**<br>ပြည်တွင်း / ပြည်ပ<br>**ဦးရေ** ၁၀ ဦး / ၁၀ ဦး<br>**အမြင့်ဆုံးလစာ(ကျပ်)** ၄၀၀,၀၀၀ / ၁,၂၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ(ကျပ်)** / ၇၅၀,၀၀၀<br><br>**စီမံခန့်ခွဲရေး**<br>ပြည်တွင်း / ပြည်ပ<br>**ဦးရေ** ၈ ဦး / -<br>**အမြင့်ဆုံးလစာ(ကျပ်)** ၂၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ(ကျပ်)** ၁၅၀,၀၀၀ |
| ၉။ | အခြားတင်ပြချက် | - Mian Hua Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ အဆောက်အဦ Layout Plan၊ အမျိုးသားပညာရေးဥပဒေ လိုက်နာမည့်ဝန်ခံချက်၊ ဆရာ/မများ၏ ပညာအရည်အချင်း အထောက်အထားများအား တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဒေါ်မာလာ (ခ) ဒေါ်မာလာတင့်နှင့် ဒေါ်စန်းစန်းဝေတို့ ချုပ် ဆိုထားသည့် ၅ နှစ် ၃ လ သက်တမ်းရှိ မြေနှင့်အဆောက်အဦ ငှားရမ်း ခြင်းစာချုပ် တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် ဒေါ်ယဉ်ယဉ်ဝင်း အမည်ဖြင့် KBZ Bank ၌ ၃၀-၁၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၄၀၇,၆၂၉,၁၃၆.၉၉ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် |

| | | |
|---|---|---|
| | | (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၂၇/ ၂၀၁၉( ၂၂၄ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ် မတ်လ ၂၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mian Hua Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နိုင်ငံခြားဘာသာရပ်(တရုတ်) ဘာသာစကားသင်ကြားရေး ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mian Hua Co., Ltd. မှ အမှတ်-၇(အေ)၊ မြေကွက်အမှတ်-၃၂/၅၊ မြေတိုင်းရပ်ကွက်အမှတ်-၈၅(ကံဘဲ့)၊ ပြည်တော်အေးရိပ်သာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၃၇၂ ဧကတွင် နိုင်ငံခြားဘာသာရပ်(တရုတ်) ဘာသာစကားသင်ကြားရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Mian Hua Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ မြေနှင့် အဆောက်အဦပိုင်ရှင် ဒေါ်မာလာ(ခ) ဒေါ်မာလာတင့်နှင့် ငှားရမ်းသူဒေါ်စန်းစန်းဝေတို့ ချုပ်ဆိုထားသည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်၊ မြေပိုင်ဆိုင်မှုအထောက်အထား၊ သင်ရိုးညွှန်းတမ်းနှင့် ဆရာ၊ ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၃။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၃၀၀.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း တိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၁၉၀.၀၀ |
| မြေ/အဆောက်အဦ ငှားရမ်းခ | ၆၀.၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများတန်ဖိုးပမာဏ | ၅၀.၀၀ |
| **စုစုပေါင်း** | **၃၀၀.၀၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၁၈ဦး နှင့် ပြည်ပဝန်ထမ်း ၁၀ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း တစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ

ကျပ် ၄၀၀,၀၀၀၊ ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၇၅၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အတည်ပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းအမျိုးအမည်နှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကျောင်းသားဦးရေ | ဝန်ဆောင်ခနှုန်း(ကျပ်) |
|---|---|---|---|
| (က) | Grade 1 | ၁၀ | ၇,၀၀၀,၀၀၀ |
| (ခ) | Grade 2 | ၈ | ၇,၀၀၀,၀၀၀ |
| (ဂ) | Grade 3 | ၅ | ၇,၀၀၀,၀၀၀ |
| (ဃ) | Grade 4 | ၄ | ၇,၀၀၀,၀၀၀ |
| (င) | Grade 5 | ၂ | ၇,၀၀၀,၀၀၀ |
| (စ) | Grade 6 | ၂ | ၇,၀၀၀,၀၀၀ |

၆။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနအဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် မတ်လ ၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၉/၂၀၁၉၊ ဆုံးဖြတ်ချက်အပိုဒ် ၅၇ အရ အမှတ်-၇(အေ)၊ မြေကွက်အမှတ်-၃၂/၅၊ မြေတိုင်းရပ်ကွက်အမှတ်-၈၅(ကံဘဲ့)၊ ပြည်တော်အေးရိပ်သာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေ ၀.၃၇၂ ဧက တွင် လုပ်ငန်းဆောင်ရွက်ခြင်းအား ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ထောက်ခံပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်လီမိတက်တွင် ဒေါ်ယဉ်ယဉ်ဝင်းအမည်ဖြင့် ၃၀-၁၁-၂၀၁၈ ရက်စွဲတွင် ကျပ် ၄၀၇,၆၂၉,၁၃၆.၉၉ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mian Hua Co., Ltd. မှ နိုင်ငံခြားဘာသာရပ်(တရုတ်)ဘာသာစကား သင်ကြားရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

| ဝင်စာအမှတ် | M4- 2597 |
|---|---|
| ရက်စွဲ | 21.3.19 |



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မတ်လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉.၂.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅(အ)/ ခ - ၀၂၇ / ၂၀၁၉ (၁၇၉)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mian Hua Co.,Ltd မှ အမှတ်-၇(အေ)၊ မြေကွက်အမှတ်-၃၂/၅၊ မြေတိုင်းရပ်ကွက်အမှတ် - ၈၅ (ကံဘဲ့)၊ ပြည်တော်အေးရိပ်သာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၃၇၂ ဧကတွင် နိုင်ငံခြားဘာသာရပ်(တရုတ်)ဘာသာစကား သင်ကြားရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၄.၃.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၉/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၇)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးလူမှုရေးဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီး
တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရန်ကင်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Mian Hua Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

D/2019/Cabinet 46(1)



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပညာရေးဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

NP7-1023
8-3-19

စာအမှတ် ၊ မူဝါဒ(သဘောထားမှတ်ချက်)၄၀၄/၂၀၁၉( ၅၁၁၆ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ မတ်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၂-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက -၅ (အ) / ခ - ၀၂၇ / ၂၀၁၉ (၁၇၈)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mian Hua Co., Ltd. မှ အမှတ်-၇ (အေ)၊ မြေကွက်အမှတ်-၃၂/၅၊ မြေတိုင်းရပ်ကွက်အမှတ်-၈၅(ကံဘဲ့)၊ ပြည်တော်အေးရိပ်သာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၃၇၂ ဧကတွင် နိုင်ငံခြားဘာသာရပ် (တရုတ်) ဘာသာ စကားသင်ကြားရေး ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပေးနိုင်ပါရန် ရည်ညွှန်းပါ စာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါ စာဖြင့်လည်းကောင်း၊ အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၃)ပါစာဖြင့်လည်းကောင်း ပေးပို့ခဲ့ပြီးဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့် အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိကကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံများနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှုရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံးနေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများ သည် ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန်နှင့် နိုင်ငံခြားဘာသာရပ် (တရုတ်) ဘာသာ စကားသင်ကြားရေး ဝန်ဆောင်မှုလုပ်ငန်းသည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ-မရှိ စိစစ်ရန် လည်း လိုအပ်ပါသည်။

၄။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း- ၀၆၇ ၃၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

၅။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mian Hua Co., Ltd. မှ အမှတ်-၇)(အေ)၊ မြေကွက်အမှတ်-၃၂/၅၊ မြေတိုင်းရပ်ကွက်အမှတ်-၈၅(ကံဘဲ့)၊ ပြည်တော်အေးရိပ်သာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၃၇၂ ဧကတွင် နိုင်ငံခြားဘာသာရပ် (တရုတ်) ဘာသာစကားသင်ကြားရေး ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့် ပညာရေး ဝန်ဆောင်မှုဆိုင်ရာလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ထောက်ခံပါကြောင်းပြန်ကြားအပ်ပါသည်။

Kyaw Naing
6-3-19.

ဒုတိယဝန်ကြီး (ကိုယ်စား)

( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ

မျှောစာတွဲ